# “အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်”

# (International Group of Entrepreneur Services Co., Ltd.)

က

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်အတွင်းရှိ သီလဝါဆိပ်ကမ်းဒေသ၊
အမှတ်- ၃၁ ၊ ၃၂ (ဘီ) ရှိ

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေကို B.O.T စနစ်ဖြင့် ငှားရမ်း၍

စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့်

စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား
သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း

ဆောင်ရွက်ရန်အတွက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

## အဆိုပြုချက်တင်ပြချက်

# မာတိကာ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၅၂-ပဆ/ခွဲ (၁) ၂၀၁၃(၂/ ၄၀၄)
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၀ ရက်

အကြောင်းအရာ။ **INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD. (IGE Services Co., Ltd) အား သီလဝါကမ်းနားဒေသတွင် စက်သုံးဆီတင်/ချ ဆိပ်ကမ်း တည်ဆောက်ခွင့် ပြုပါရန်ကိစ္စ**

၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရသည် ပုဂ္ဂလိကလုပ်ငန်းရှင်များအား စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ခွင့်ပြုခဲ့ပြီးဖြစ်ရာ၊ အဆိုပါလုပ်ငန်းအား အထောက် အကူပြုသည့် စက်သုံးဆီတင်သွင်းခြင်းလုပ်ငန်း ဆောင်ရွက်သွားနိုင်ရေးအတွက် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မှ ပိုင်ဆိုင်သည့် သီလဝါဆိပ်ကမ်းနယ်မြေရှိ မြေကွက်များတွင် ပုဂ္ဂလိကကုမ္ပဏီများသို့ ပို့ဆောင်ရေးဝန်ကြီးဌာနမှ BOT စနစ်ဖြင့်လုပ်ကိုင်ဆောင်ရွက်ရန် မြေနေရာသတ်မှတ်အတည်ပြုပေး ခဲ့ပြီး ဖြစ်ပါသည်။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က နောက်ဆုံးအတည်ပြုချထားပေးသည့် မြေကွက်များ အနက်မှ ရွှေသံလွင်ဟိုင်းဝေးကုမ္ပဏီလီမိတက်၊ INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD. (IGE Services Co., Ltd.) နှင့် ကောင်းမြန်မာအောင်သင်္ဘောကုမ္ပဏီလီမိတက် တို့အား မြေကွက်အမှတ်၊ ၃၁ နှင့် ၃၂ တွင် မြေနေရာ ပြောင်းလဲသတ်မှတ်ပေးခဲ့ပါသည်။

၂။ ကုမ္ပဏီ(၃)ခုအတွက် ချထားပေးသော သီလဝါမြေကွက်အမှတ်၊ ၃၁ နှင့် ၃၂ သည် စုစုပေါင်း မျက်နှာစာအလျား ၄၀၀ မီတာနှင့် အကျယ် ၇၅၀ မီတာရှိရာ၊ မျက်နှာစာအလျား ၁၃၃.၃၃မီတာနှင့် အကျယ် ၇၅၀ မီတာစီရှိသော မြေကွက်(၃)ကွက် ပိုင်းခြားကာ ၎င်းမြေကွက်များပေါ်တွင် ကုမ္ပဏီ တစ်ခုလျှင် တစ်ကွက်စီပေါ်၌ စက်သုံးဆီဆိပ်ကမ်းများ တည်ဆောက်လျက် ရှိပါသည်။

၃။ ထိုသို့ကုမ္ပဏီ(၃) ခု၏ သဘောတူညီချက်အရ ပိုင်းခြားထားသော မြေကွက်အမှတ်၊ ၃၁၊ ၃၂(ဘီ) တွင် မြေနေရာချထားခြင်းခံရသည့် IGE Services Co., Ltd. သည် ကမ်းနဖူးတွင် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားကို တည်ဆောက်ပြီး၊ ကျောထောက်နောက်ခံမြေပေါ်တွင် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်လျက် စက်သုံးဆီ တင်/ချ လုပ်ငန်းနှင့် စက်သုံးဆီ သိုလှောင်·ဖြန့်ဖြူးခြင်းဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် <u>နောက်ဆက်တွဲ(က)</u> ပါစာဖြင့် တင်ပြထားပါသည်။

၄။ ကုမ္ပဏီအနေဖြင့် မြေကွက်အမှတ် ၃၁၊ ၃၂ (ဘီ)ကို ကျောထောက်နောက်ခံပြုပြီး ကမ်းနဖူး မျက်နှာစာအလျား ၁၃၁ မီတာ x အကျယ် ၁၂ မီတာရှိ ဆိပ်ခံတံတားနှင့် အလျား ၁၃၀ မီတာ x အကျယ် ၄.၈၇ မီတာအရွယ် ချဉ်းကပ်တံတားတစ်ခုပါဝင်သော ကွန်ကရစ်ဆိပ်ခံတံတား တစ်စင်းကို တည်ဆောက်ရန်အဆိုပြုထားပါသည်။ အဆိုပါ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားကို IGE Services Co., Ltd.က

ကောင်းမြန်မာအောင် သဘော်ာကုမ္ပဏီလီမိတက် နှင့်အကျိုးတူပူးပေါင်း၍ တည်ဆောက်ကာ ပူးတွဲအသုံးပြုကြမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ IGE Services Co., Ltd. အနေဖြင့် ကျောထောက်နောက်ခံမြေပေါ်တွင် စက်သုံးဆီဂါလန် (၁)သိန်းဆံ့ သိုလှောင်ကန် (၂)လုံး၊ ဂါလန် (၁)သန်းဆံ့ သိုလှောင်ကန် (၂)လုံး၊ ဂါလန် (၂)သန်းဆံ့ သိုလှောင်ကန်(၂)လုံးနှင့် အခြားလုပ်ငန်း အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ကာ စက်သုံးဆီသိုလှောင် ဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြထားပါသည်။

၆။ သီလဝါဆိပ်ကမ်းဒေသတွင် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားများအတွက် သတ်မှတ်မြေနေရာများတွင် ရင်းနှီးမြှုပ်နှံမည့် ကုမ္ပဏီ/အဖွဲ့အစည်းများအား မြေအသုံးချမှုပရီမီယံကြေး တစ်ကေလျှင် သိန်း ၁၅၀/- နှုန်းပေးဆောင်ရန်နှင့် လစဉ် မြေငှားရမ်းခအဖြစ် မြေ ၃၇ ဧကအတွက် တစ်လလျှင် ငွေကျပ်သိန်း ၂၀၀(မြေတစ်ဧကကို တစ်လလျှင်ငွေကျပ် ၅၄၀၅၄၀.၅၄) အခြေခံနှုန်းဖြင့်ကောက်ခံရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁၀-၈-၂၀၁၂ ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-ထွေ/ ၂၀၁၂ (၁၀၃၈၄-၅)ဖြင့် ပို့ဆောင်ရေးဝန်ကြီးဌာနသို့ လမ်းညွှန်ထားပါသည်။

၇။ ထို့ကြောင့် IGE Services Co., Ltd. အတွက် ချထားပေးသည့် မြေကွက်အမှတ် ၃၁၊ ၃၂(ဘီ) ၏ ကျောထောက်နောက်ခံမြေဧရိယာမှာ ၂၄.၇၁ ဧက ရှိမည်ဖြစ်သဖြင့် မြေအသုံးချမှု ပရီမီယံကြေး အဖြစ် မြေတစ်ဧကလျှင် ကျပ် ၁၅၀ သိန်းနှုန်းဖြင့် တွက်ချက်ပါက ကျသင့်ငွေကျပ် ၃၇၀,၆၅၀,၀၀၀/ ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ကုမ္ပဏီမှ ပေးသွင်းရမည်ဖြစ်ပါသည်။

၈။ IGE Services Co., Ltd. က ပေးဆောင်ရမည့် လစဉ်မြေငှားရမ်းခနှင့်ပတ်သက်၍ တည်ဆောက်မည့် စက်သုံးဆီတင်/ချဆိပ်ခံတံတားမြေနေရာ ဧရိယာ ၄.၆၀ ဧကအတွက် လစဉ်မြေငှားရမ်းခ အနေဖြင့် တစ်ဧကလျှင်ကျပ် ၅၄၀,၅၄၀.၅၄ နှုန်းဖြင့် တွက်ချက်ပါကငွေကျပ် ၂,၄၈၆,၄၈၆/- ကျသင့်မည်ဖြစ်ပါသည်။ ထို့အပြင်ကျောထောက်နောက်ခံမြေမှာ ၂၄.၇၁ ဧကရှိမည်ဖြစ်သဖြင့် တစ်ဧကလျှင် ကျပ် ၅၄၀,၅၄၀.၅၄ နှုန်းဖြင့်တွက်ချက်ပါက လစဉ်ငှားရမ်းခငွေမှာကျပ် ၁၃,၃၅၆,၇၅၇/- ဖြစ်သဖြင့် စုစုပေါင်း လစဉ်မြေငှားခကျသင့်ငွေမှာ ကျပ် ၁၅,၈၄၃,၂၄၃/- ဖြစ်ပါသည်။

၉။ IGE Services Co., Ltd. သည် ဆိပ်ခံတံတားတစ်စင်း၊ စက်သုံးဆီသိုလှောင်ကန်နှင့် အထောက်အကူပြုအဆောက်အအုံများကို ငွေကျပ်သန်းပေါင်း ၄၂၇၂.၈၆ ခန့်နှင့် အမေရိကန်ဒေါ်လာ ၂.၀၁ သန်းခန့် အကုန်အကျခံ၍(၂)နှစ်အတွင်း တည်ဆောက်ရေးလုပ်ငန်းများကို အပြီးဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ တည်ဆောက်ရေးလုပ်ငန်းများကို ကြိုတင်ဆောင်ရွက်ခွင့်ပြုထားပြီးဖြစ်သဖြင့် စက်သုံးဆီကုမ္ပဏီများမှ ၁၂-၆-၂၀၁၁ ရက်နေ့က ပြုလုပ်ခဲ့သောအစည်းအဝေးတွင် တင်ပြထားသည့် စက်သုံးဆီများ တင်/ချသိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းများ စတင် ဆောင်ရွက်ရန် လျာထားသည့်နေ့၏ နောက်တစ်နေ့ ၁-၁-၂၀၁၃ ရက်နေ့မှ စတင်ပြီး မြေငှားရမ်းခ များကို ကောက်ခံသွားမည် ဖြစ်ပါသည်။

၁၀။ ထို့အပြင် လုပ်ငန်း ခွင့်ပြုချက် ရရှိပြီးသူများ အနေဖြင့် ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလကုန်တွင် ဆိပ်ခံတံတားနှင့် နောက်ခံအဆောက်အဦများ ဆောက်လုပ်ခြင်းလုပ်ငန်းကို ၅၀ % ကျော်ပြီးစီးရန်နှင့် ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလကုန်တွင် ဆောက်လုပ်ခြင်းလုပ်ငန်း အားလုံးပြီးစီးရမည်ဖြစ်ပြီး၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီ (၁)ရက်နေ့ မှစ၍ လုပ်ငန်းများ စတင်ဆောင်ရွက်နိုင်ရမည်ဟု ၁-၈-၂၀၁၂ ရက်နေ့က ပြုလုပ်ခဲ့သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃/၂၀၁၂) ကြိမ်မြောက် အစည်းအဝေးတွင် လမ်းညွှန်ထားပါသဖြင့် သက်ဆိုင်ရာ စက်သုံးဆီဆိပ်ကမ်း ဆောက်လုပ်ခွင့်ရရှိသူများသို့လည်း ညွှန်ကြားထားပြီး ဖြစ်ပါသည်။

၁၁။ IGE Services Co., Ltd. အနေဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော သီလဝါ ဆိပ်ကမ်းနယ်မြေ၊ မြေကွက်အမှတ်၊ ၃၁ ၊ ၃၂ (ဘီ)တွင် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားတစ်စင်းနှင့် ကျောထောက်နောက်ခံမြေတွင် စက်သုံးဆီသိုလှောင်ကန်နှင့် အထောက်အကူပြုအဆောက်အအုံများ တည်ဆောက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွင့်အရေးများကို ခံစားခွင့်ပြုလျက် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုနိုင်ပါရန် ကိစ္စအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် ၁-၁၂-၂၀၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် ၁၆/၂၀၁၂ က သဘောတူထားပြီး ဖြစ်ပါသည်။

၁၂။ IGE Services Co., Ltd. အား သီလဝါဆိပ်ကမ်းနယ်မြေ၊ မြေကွက်အမှတ်၊ ၃၁၊ ၃၂ (ဘီ) ကျောထောက်နောက်ခံမြေပေါ်တွင် စက်သုံးဆီတင်/ချ ဆိပ်ခံတံတား၊ စက်သုံးဆီသိုလှောင်ကန်များ နှင့် သိုလှောင်ဖြန့်ဖြူးရေး အထောက်အကူပြု အဆောက်အအုံများကို BOT စနစ်ဖြင့် အကောင် အထည်ဖော် တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်း နှင့်ပတ်သက်သည့် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့် IGE Services Co., Ltd.တို့အကြားချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)နှင့် မြေငှား စာချုပ်(မူကြမ်း)တို့အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အကြံပြုချက်များ ကိုလည်း တောင်းခံထားပြီးဖြစ်ပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ အကြံ ပြုချက် ပြန်ကြားစာနှင့် သဘောထားမှတ်ချက်၊ အကြံပြုချက်၊ ထပ်မံညှိနှိုင်း ဆွေးနွေးချက်များနှင့် အညီပြုစုထားသော ပဋိညာဉ်စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)ကို <u>**နောက်ဆက်တွဲ (ခ)**</u> ဖြင့် ပူးတွဲတင်ပြထားပါသည်။

၁၃။ IGE Services Co., Ltd. မှ သီလဝါဒေသတွင် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက် ပြီး သိုလှောင်ဖြန့်ဖြူးခြင်းလုပ်ငန်းများဆောင်ရွက်ရန် မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံအတွက် မီးသတ်ဦးစီးဌာန၏ သဘောထားမှတ်ချက်အား <u>**နောက်ဆက်တွဲ(ဂ)**</u> ပါ စာဖြင့် တင်ပြထားပါသည်။

၁၄။ ထို့အပြင် စက်သုံးဆီသိုလှောင်ကန်များ ဆောက်လုပ်ခြင်းနှင့် ဆီပိုက်များသွယ်တန်းခြင်း အတွက် သတ္တုတွင်းဝန်ကြီးဌာနနှင့် စွမ်းအင်ဝန်ကြီးဌာနများသို့လည်းကောင်း၊ သီလဝါဒေသတွင် စက်သုံးဆီသိုလှောင်ဖြန့်ဖြူးခြင်းလုပ်ငန်းများ ဆောင်ရွက်ရန်ကိစ္စအတွက် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့သို့လည်းကောင်း သဘောထားမှတ်ချက် တောင်းခံထားဆဲဖြစ်ကြောင်းနှင့် IGE Services

Co., Ltd. မှ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားတည်ဆောက်ခြင်းအတွက် သဘာဝပတ်ဝန်းကျင် အကျိုးသက်ရောက်မှုများ လေ့လာဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)အား National Engineering and Planning Services Co., Ltd. အဖွဲ့သို့ လုပ်ငန်းအပ်နှံ ဆောင်ရွက်ထားပြီးဖြစ်ကြောင်း ၎င်းအဖွဲ့နှင့် ဌာနများမှ EIA အစီရင်ခံစာနှင့် သဘောထားမှတ်ချက်များရရှိပါက ဆက်လက်တင်ပြသွားမည်ဖြစ်ကြောင်း IGE Services Co., Ltd. မှ **နောက်ဆက်တွဲ(ဃ)**ဖြင့် တင်ပြထားပါသည်။

၁၅။ IGE Services Co., Ltd. အား သီလဝါဆိပ်ကမ်းနယ်မြေ၊ မြေကွက်အမှတ်၊ ၃၁ ၊ ၃၂ (ဘီ)ကို ကျောထောက်နောက်ခံပြုပြီး၊ ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်းနှင့် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်၍ စက်သုံးဆီသိုလှောင်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုခြင်းအားဖြင့် နိုင်ငံတော်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပြီး၊ တင်သွင်းခွင့်ရရှိထားသော စက်သုံးဆီများကို လိုအပ်သည့်အချိန်တွင် မိမိပိုင်ဆိပ်ခံတံတားမှတစ်ဆင့် ဖြန့်ဖြူးနိုင်ခြင်းကြောင့် ဈေးကွက်အတွင်း စက်သုံးဆီပြတ်လပ်သည့် အခက်အခဲများကို ကျော်လွှားနိုင်မည်ဖြစ်ပါသည်။

၁၆။ သို့ဖြစ်ပါ၍ INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD. (IGE Services Co., Ltd.) အနေဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က ပိုင်ဆိုင်သော သီလဝါဆိပ်ကမ်းနယ်မြေ၊ မြေကွက်အမှတ် ၃၁ ၊ ၃၂ (ဘီ)တွင် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားတစ်စင်းနှင့် ကျောထောက်နောက်ခံမြေတွင် စက်သုံးဆီ သိုလှောင်ကန်နှင့် သိုလှောင်ဖြန့်ဖြူးရေး အထောက်အကူပြုအဆောက်အအုံများ တည်ဆောက် ခွင့်ပြုရန်ဖြစ်ပါသည်။ ထိုကဲ့သို့ခွင့်ပြုခြင်းအတွက် လစဉ်မြေငှားရမ်းခငွေ ကျပ် ၁၅,၈၄၃,၂၄၃/- (ကျပ် တစ်ဆယ့်ငါးသန်း ရှစ်သိန်းလေးသောင်း သုံးထောင်နှစ်ရာလေးဆယ့်သုံးတိတိ) ကိုလည်းကောင်း၊ မြေအသုံးချမှု ပရီမီယံကြေးငွေ ကျပ် ၃၇၀,၆၅၀,၀၀၀/- (ကျပ် သုံးရာ့ ခုနှစ်ဆယ်သန်း ခြောက်သိန်း ငါးသောင်းတိတိ) ကိုလည်းကောင်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်စေလျက်၊ မြေငှားရမ်းကာလ/ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ (၃၀)နှစ် ခွင့်ပြုသည့် BOT စနစ်ဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွင့်အရေးများကို ခံစားခွင့်ပြုလျက် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဉာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး

**<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>**

မိတ္တူကို-

- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

## ၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်

# IGE Co., Ltd.

No.27/B Kabaaye pagoda Road, Bahan Township, Yangon, Myanmar.

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ်။ ။**0022/ IGE/ MIC/ 2012-2013**
ရက်စွဲ ။ ။၂၀၁၂ခုနှစ်၊ အောက်တိုဘာလ(၂၃)ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ **"အပြည်ပြည်ဆိုင်ရာ စီးပွားရေး လုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (International Group of Entrepreneur Services Co., Ltd.)**သည် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါ ဆိပ်ကမ်းဒေသတွင်၊ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ပြီး၊ စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို **BOT** စနစ်ဖြင့်လုပ်ကိုင်ရန်၊ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများကို တင်ပြအပ်ပါ သည်။

လေးစားစွာဖြင့်

ဦးသန်းဝင်းဆွေ
ဒါရိုက်တာ
အပြည်ပြည်ဆိုင်ရာစီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်

# ၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း

# IGE *Co., Ltd.*

**No.27/B Kabaaye pagoda Road, Bahan Township, Yangon, Myanmar.**


သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ်။ ။**0023/IGE/ MIC/ 2012-2013**
ရက်စွဲ ။ ။၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ (၂၃)ရက်။

**အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် **"အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင် အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (International Group of Entrepreneur Services Co., Ltd.)**သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ အကွက်အမှတ်-၃၁/၃၂(ဘီ)တွင်၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့်ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များတည်ဆောက်ကာ စက်သုံးဆီများ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းကိုလုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

၂။ **"အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (International Group of Entrepreneur Services Co., Ltd.)** သည် **BOT** စနစ်ဖြင့် မြေကိုငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင် ကန်များတည်ဆောက်ကာ စက်သုံးဆီများအားသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းဆောင် ရွက်ရန်အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှုကျပ်(၅,၉၉၀. ၅၅)သန်းရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ လိုအပ်သောစက်ပစ္စည်းကိရိယာများကို ပြည်တွင်း၊ ပြည်ပမှ ဝယ်ယူတပ်ဆင်မည် ဖြစ်ပါသည်။ ကျွန်တော်တို့၏ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်သည့်လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတကာအဆင့်မီခေတ်မီစက်ကရိယာများဖြင့်တည်ဆောက်လုပ်ကိုင်မည်ဖြစ်ပြီး၊ နိုင်ငံခြားငွေရရှိနိုင်သော ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပါသည်။ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်သည့် လုပ်ငန်းအတွက် စုစုပေါင်းရင်း

နှီးမြှုပ်နှံမှုကျပ် (၅,၉၉၀. ၅၅)သန်းတွင် ငွေသားကျပ် (၁၀၀)သန်း၊ ဆိပ်ခံတံတားအတွက် **US$(2.01)**သန်းနှင့်ညီမျှသောကျပ်(၁,၇၁၈. ၅၅)သန်းနှင့် ကျပ်ငွေ(၂၉၄)သန်း စုစုပေါင်း (၂,၀၁၂. ၅၅)သန်း၊ ဆီသိုလှောင်ကန်များအတွက် ကျပ်(၂,၆၅၈)သန်း၊ အဆောက်အဦးများအတွက် ကုန်ကျစရိတ်ကျပ်(၆၁၂)သန်း၊ ဆိပ်ကမ်းလွင်ပြင်၊ ရေးပေးဝေရေးစနစ်၊ လျှပ်စစ်ဖြန့်ဖြူးရေးစနစ်နှင့် မြေအသုံးချမှုပရိမီယံကြေးများအတွက် ကျပ်(၅၇၈)သန်းနှင့် အကြိုအင်ဂျင်နီယာလုပ်ငန်း အတွက်ကျပ်(၃၀)သန်းတို့ဖြင့် ထည့်ဝင်ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက်အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏စီးပွားရေးဖွံ့ဖြိုး တိုးတက်လာစေရန်အတွက်လည်းကောင်း၊ ကျွန်တော်တို့ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

၄။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုလုပ်သူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်။

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(ဂ) **BOT** စနစ်ဖြင့် ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ်(မူကြမ်း)၊

(ဃ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(င) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊

လေးစားစွာဖြင့်

ဦးသန်းဝင်းဆွေ
ဒါရိုက်တာ
အပြည်ပြည်ဆိုင်ရာစီးပွားရေးလုပ်ငန်းရှင်အဖွဲ့
ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်

# ၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းဆိုင်ရာ ကတိဝန်ခံချက်များ

# IGE *Co., Ltd.*

**No.27/B Kabaaye pagoda Road, Bahan Township, Yangon, Myanmar.**


သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ်။ ။**0024/ IGE/ MIC/ 2012-2013**
ရက်စွဲ ။ ။၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ(၂၃)ရက်။

အကြောင်းအရာ ။ ။**"အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (International Group of Entrepreneur Service s Co., Ltd.)မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို BOT စနစ်ဖြင့်ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **"အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (International Group of Entrepreneur Services Co., Ltd.)**သည် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ အကွက်အမှတ်-၃၁/၃၂(ဘီ)တွင်၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့်ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့်ဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကိုတည်ထောင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

IGE Co., Ltd.
No.27/B Kabaaye pagoda Road, Bahan Township, Yangon, Myanmar.

(ဂ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) ထို့အပြင် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ နည်းဥပဒေ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(င) မီးဘေးကြိုတင်ကာကွယ်မှုအတွက် အစီအမံများပြုလုပ်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(စ) လုပ်ငန်းအတွက်စက်ပစ္စည်းများတင်သွင်းရာတွင် ရေကြောင်းခရီး/ လေကြောင်းခရီးတို့ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဆ) လျှပ်စစ်မီးအသုံးပြုမှုနှင့် ပတ်သက်၍ မဟာဓာတ်အားလိုင်းမှ လျှပ်စစ်မီးမရရှိသည့်အခါတွင် ကိုယ်ပိုင် **Generator** ဖြင့် အသုံးပြုမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးတင်ဝင်းဆွေ
ဒါရိုက်တာ
အပြည်ပြည်ဆိုင်ရာစီးပွားရေးလုပ်ငန်းရှင်အဖွဲ့
ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်

Tel : 95-1-546921, 558948, 552558, 548031, 542711 Fax : 95-1-544462, 544756

# IGE Co., Ltd.

**No.27/B Kabaaye pagoda Road, Bahan Township, Yangon, Myanmar.**


သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ(၂၃)ရက်။

အကြောင်းအရာ ။ ။"အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်"(International Group of Entrepreneur Services Co., Ltd.)မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင် ကန်များတည်ဆောက်ကာ ဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း အတွက် လျှပ်စစ်ဓာတ်အားအသုံးပြုမှုနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **"အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်"** **(International Group of Entrepreneur Services Co., Ltd.)** ရန်ကုန် တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ အကွက်အမှတ်-၃၁/၃၂(ဘီ)တွင်၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ် ဖြင့်ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကိုဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုသို့ ဆိပ်ခံတံတားတည်ဆောက်၍ ဆီသိုလှောင်ကန်တည်ဆောက်ပြီး၊ စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာတွင် လျှပ်စစ်ဓာတ်အား အသုံးပြုမှုနှင့် ပတ်သက်၍ မဟာဓာတ်အားလိုင်းမှလျှပ်စစ်ဓာတ်အား အလုံအလောက်မရရှိသည့် အခါတွင် ကိုယ်ပိုင် **Generator** ဖြင့် အသုံးပြုသွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးသန်းဝင်းဆွေ
ဒါရိုက်တာ
အပြည်ပြည်ဆိုင်ရာစီးပွားရေးလုပ်ငန်းရှင်အဖွဲ့
ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်


**Tel : 95-1-546921, 558948, 552558, 548031, 542711 Fax : 95-1-544462, 544756**

# IGE Co., Ltd.

No.27/B Kabaaye pagoda Road, Bahan Township, Yangon, Myanmar.


သို့

ဥက္ကဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ(၂၄)ရက်။

အကြောင်းအရာ ။ ။ **"အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (International Group of Entrepreneur Services Co., Ltd.)မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များတည်ဆောက်ကာ စက်သုံးဆီသိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းအတွက် မြန်မာနိုင်ငံသားများပိုင်ဆိုင်မှုနှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **"အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (International Group of Entrepreneur Services Co., Ltd.)**သည် ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ အကွက်အမှတ်-၃၁/၃၂(ဘီ)တွင်၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ မြေကို **BOT** စနစ်ဖြင့်ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုသို့ ဆိပ်ခံတံတား တည်ဆောက်ခြင်းနှင့် ဆီသိုလှောင်ကန်တည်ဆောက်ပြီး၊ စက်သုံးဆီများ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။ အဆိုပါ လုပ်ငန်းကို မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ မည်သည့် နိုင်ငံခြားမှလုပ်ငန်းရှင်များ ပိုင်ဆိုင်ခြင်းမရှိကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးသန်းဝင်းဆွေ
ဒါရိုက်တာ
အပြည်ပြည်ဆိုင်ရာစီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်


Tel : 95-1-546921, 558948, 552558, 548031, 542711 Fax : 95-1-544462, 544756

# IGE *Co., Ltd.*

**No.27/B Kabaaye pagoda Road, Bahan Township, Yangon, Myanmar.**


## အခွန်ငွေပေး ဆောင်ရန်နှင့် ပတ်သက်၍ကတိဝန်ခံချက်

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **"အပြည်ပြည်ဆိုင်ရာ စီးပွားရေး လုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်" (International Group of Entrepreneur Services Co., Ltd.)** သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်အတွင်းရှိ၊ သီလဝါဆိပ်ကမ်းဒေသ၊ အမှတ်-၃၁/၃၂ (ဘီ)တွင် **BOT** စနစ်ဖြင့် စက်သုံးဆီတင်/ချဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များတည်ဆောက်ကာ စက်သုံးဆီများအားသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို တည်ထောင်ဆောင်ရွက်ရာတွင် ဝန်ထမ်းခန့်ထားရာ၌ တစ်နှစ်လျှင်လစာငွေကျပ် ၁,၄၄၀,၀၀၀/အထက်ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကိုသတ်မှတ်ထားသည့်နှုန်းထားအတိုင်း ဝန်ထမ်းများ၏ လစာမှနုတ်ယူ၍ နိုင်ငံတော်သို့ ပေးဆောင်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးသန်းဝင်းဆွေ
ဒါရိုက်တာ
အပြည်ပြည်ဆိုင်ရာစီးပွားရေးလုပ်ငန်းရှင်အဖွဲ့
ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်


**Tel : 95-1-546921, 558948, 552558, 548031, 542711 Fax : 95-1-544462, 544756**

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ
ရင်းနှီးမြှုပ်နှံလိုသူ၏ ပုံစံ (မနသ-၁) အဆိုပြုချက်

ပုံစံ (မနသ-၁)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
## ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့် ပုဒ်မ ဂ

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ် ။ ။ **IGE/ MIC/ 2012 (၈၀)**
ရက်စွဲ ။ ။ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ (၂၃)ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

| | | |
|---|---|---|
| (က) | အမည် | - ဦးသန်းဝင်းဆွေ |
| (ခ) | အဖအမည် | - ဦးညွန့်မောင် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - ၉/မနတ (နိုင်) ၀၄၉၃၄၂ |
| (ဃ) | နေရပ်လိပ်စာ | - အမှတ် (၅၉/၆၁)၊ ဗိုလ်မင်းရောင်လမ်း၊ (၄၀)ရပ်ကွက်၊ ဒဂုံမြို့သစ်(မြောက်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (င) | လူမျိုး/ဘာသာ | - ဗမာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | - အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင် အဖွဲ့ ဝန်ဆောင်မှုကုမ္ပဏီလီမိတက် **(International Group of Entrepreneur Services Co., Ltd.)** |
| (ဆ) | လုပ်ငန်းအမျိုးအစား | - စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း။ |

(ဇ) အဖွဲ့အစည်းတည်နေရာအရပ် - **အမှတ်(၂၇/ဘီ)၊ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။**

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁)............ (၂).............
............ .............

(ခ) အဖအမည် (၁)............ (၂).............
............ .............

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်
(၁)............ (၂).............
............ .............
............ .............

(ဃ) နေရပ်လိပ်စာ (၁)............ (၂).............
............ .............
............ .............

(င) လူမျိုးဘာသာ (၁)............ (၂).............
............ .............
............ .............

(စ) အဖွဲ့အစည်းအမည် ..........................

(ဆ) လုပ်ငန်းအမျိုးအစား ..........................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ..........................
(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -..........................

(ခ) ဝန်ဆောင်မှုလုပ်ငန်း -**ဆီတင်/ချ ဆိပ်ခံတားတည်ဆောက်ခြင်းနှင့် ဆီသိုလှောင်ကန်များတည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း။**

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
............. **လီမိတက် ကုမ္ပဏီ** ...............

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
.................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
.................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

(က) တစ်ဦးတည်းပိုင် - .........................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း - .........................

(ဂ) လီမိတက်ကုမ္ပဏီ - **အပြည်ပြည်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်အဖွဲ့ ဝန်ဆောင်မှုကုမ္ပဏီလီမိတက်**

(ဃ) သမဝါယမအသင်း - .........................
(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင် ကုမ္ပဏီဟုဖော်ပြ၍ ထည့်ဝင်မည့် မ,တည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

နောက်ဆက်တွဲ (၁)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ
.................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား .......................

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ .......................
(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက-
(က) ခွင့်ပြုမ,တည်ငွေရင်း -**ကျပ် ၅,၀၀၀,၀၀၀,၀၀၀/ (ကျပ်သန်းငါးထောင်တိတိ)**
(ခ) အစုရှယ်ယာအမျိုးအစား- **ကျပ် ၁၀,၀၀၀ တန် အစုရှယ်ယာ ၅၀၀,၀၀၀**
(ဂ) အစုရှယ်ယာများကထည့်ဝင်မည့် အစုရှယ်ယာပမာဏ- **၅၀၀,၀၀၀ ရှယ်ယာ (ကျပ်၅,၀၀၀,၀၀၀,၀၀၀)**

**(ခွင့်ပြုမိန့်ရရှိပါက ခွင့်ပြုမ,တည်ငွေရင်းကို သင်းဖွဲ့မှတ်တမ်း/ သင်းဖွဲ့စည်းမျဉ်းတွင် တိုးမြှင့်မည်ဖြစ်ပါသည်။)**

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ-

| (က) မ,တည်ငွေရင်းပမာဏ (သန်းပေါင်း) | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ (US$) | စုစုပေါင်း (ကျပ်) |
|---|---|---|---|
| (၁) ငွေပမာဏ- | ၁၀၀ | - | ၁၀၀ |
| (၂) စက်ပစ္စည်းကရိယာများ/လုပ်ငန်းသုံး ယာဉ်များတန်ဖိုးပမာဏ နောက်ဆက်တွဲ(၂) | - | - | - |
| (၄) အဆောက်အအုံ | | | |
| - ဆိပ်ခံတံတား | ၂၉၄ | ၂. ၀၁ | ၂,၀၁၂. ၅၅ |
| - ဆီသိုလှောင်ကန်များ | ၂,၆၅၈ | - | ၂,၆၅၈ |
| - အခြားအဆောက်အအုံများ နောက်ဆက်တွဲ (၄) | ၆၀၂ | - | ၆၀၂ |
| (၃) မြေ | - | - | - |
| (၅) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၃) | - | - | - |
| (၆) အကြိုအင်ဂျင်နီယာလုပ်ငန်း | ၃၀ | - | ၃၀ |
| (၇) အခြား (ဆိပ်ကမ်းလွင်ပြင်၊ ရေပေးဝေရေးစနစ်၊ လျှပ်စစ်ဖြန့်ဖြူးရေးစနစ် မြေအသုံးချမှုပရီမီယံကြေး) | ၅၇၈ | - | ၅၇၈ |
| စုစုပေါင်း | ၄,၂၇၂ | ၂. ၀၁ | ၅,၉၉၀. ၅၅ |

| (ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် | ကျပ် (သန်း) | US$(Million) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ | - | ၂. ၀၁ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူ ပစ္စည်းများ၏တန်ဖိုး | - | - |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | - | - |
| စုစုပေါင်း | - | ၂. ၀၁ |

**1 US$ = kyat 855 (11.10.2012) market rate**

(ဂ) တည်ဆောက်မှုကာလ - (၂၄) လ

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၁၀) လ

(င) တည်ဆောက်မှု စတင်မည့်အချန် - ခွင့်ပြုမိန့်ရရှိပြီးလျှင်ပြီးခြင်း လုပ်ငန်းစတင်မည်ဖြစ်ပါသည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား - စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်တည်ဆောက်ပြီး၊ စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း

(ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုစသည့်လုပ်ငန်းဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ- ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါ ဆိပ်ကမ်းဒေသရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၊ မြေကွက်အမှတ် မြေကွက်အမှတ်- ၃၁/၃၂(ဘီ)

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - စက်သုံးဆီ တင်/ချ ဆိပ်ခံ တံတားနှင့် စက်သုံးဆီ သိုလှောင်ကန်တည်ဆောက်ပြီး သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း၊

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် -

| | **အမျိုးအစား** | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ၁၅၀,၀၀၀ ဂါလံ |
| ၂။ | ဓာတ်ဆီ | ၅၀,၀၀၀ ဂါလံ |
| ၃။ | စက်ဆီ၊ ချောဆီ | ၂,၀၀၀ ဂါလံ |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်-

| | **အားအသုံးပြုမှု** | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | ၁,၀၀၀ **KVA** |
| ၂။ | ဓာတ်ဆီ/ ဒီဇယ်အင်ဂျင်စက်အင်အား | .................. |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | .................. |
| ၄။ | သဘာဝဓာတ်ငွေ့သုံး စက်အား | .................. |
| ၅။ | ပေးပို့သည့် အခြားအား (ရေအား/လေအား စသည်များ) | .................. |

(စ) နှစ်စဉ် ရေလိုအပ်ချက် တစ်နှစ် (၂. ၉၂၉) ဂါလံ
(နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်) တစ်နေ့လျှင် (၈,၀၀၀) ဂါလံ

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက်-

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(၀၀၀) |
|---|---|---|---|---|
| ၁။ | အဓိကကုန်ကြမ်း | | | |
| | ၁။ ........ | ........ | ........ | ........ |
| | ၂။ ........ | ........ | ........ | ........ |
| ၂။ | အထောက်အကူကုန်ကြမ်း | | | |
| | (၁) ........ | ........ | ........ | ........ |
| | ........ | ........ | ........ | ........ |
| ၃။ | စက်သုံးဆီ/ ဓါတ်ငွေ့များ- | | | |
| | (၁) ........ | ........ | ........ | ........ |
| | (၂) ........ | ........ | ........ | ........ |

(ဇ) အဆောက်အအုံ လိုအပ်ချက်- - ဆီတင်/ချ ဆိပ်ခံတံတား၊ စက်သုံးဆီသိုလှောင်ကန်များ နှင့် ရုံးအဆောက်အဦးများ အဆောက်အအုံ၊

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် -မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေ (၂၄. ၇၁)ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောက်ရွက်မည့်ဝန်ဆောင်မှု (တစ်နှစ်ပျမ်းမျှ)

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(၀၀၀) |
|---|---|---|---|---|
| (၁) | ........ | ........ | ........ | ........ |
| (၂) | ........ | ........ | ........ | ........ |

(ဋ) ရောင်းချမည့်နည်းစနစ် - ပြည်တွင်း ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြား သင်္ဘောများအတွက် နိုင်ငံခြားငွေဖြင့် ရယူပါသည်။

၁၀။ နှစ်စဉ်ကုန်ထုတ်မှု/ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | ခန့်မှန်းခြေ (သန်းပေါင်း) ကျပ်ငွေ | ခန့်မှန်းခြေ (သန်းပေါင်း) နိုင်ငံခြားငွေ |
|---|---|---|
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | ၄,၂၇၂ | ၂. ၀၁ |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ | - | - |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | - | - |

| | | | |
|---|---|---|---|
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | - |
| (င) | နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | - |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှလိုအပ်မည့် အမှုထမ်းများ-

| **အမှုထမ်းအမျိုးအစား** | **ဦးရေ** |
|---|---|
| **ဝန်ထမ်း** | **၁၃၀ ဦး** |

**နောက်ဆက်တွဲ (၁၁)**

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ-

-မရှိပါ-

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | | ကျပ်ငွေ (သန်းပေါင်း) | နိုင်ငံခြားငွေ (သန်းပေါင်း) |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု (နောက်ဆက်တွဲ (၅) | - | - |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် (နောက်ဆက်တွဲ ၆) | - | - |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် (နောက်ဆက်တွဲ ၆) | - | - |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု (ပထမနှစ်)ကျပ် | - | - |
| (င) | အရင်းကျေကာလ | **(၇)နှစ် (၈)လ** | **IRR-19%** |
| (စ) | အခြားအကျိုးအမြတ်များ | **- အလုပ်အကိုင် ပိုမိုရရှိ၍ နည်းပညာသစ်များရရှိပြီး၊နိုင်ငံတော်အတွက် ဝင်ငွေရရှိ မည်ဖြစ်ပါသည်။** | |
| (ဆ) | အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | **- အလုပ်သမား ၁၃၀ဦး အလုပ်အကိုင်ရရှိပါမည်။** | |

**နောက်ဆက်တွဲ (၁၁)**

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ ဖွဲ့စည်းခြင်း၊ မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

လက်မှတ်၊..................

အမည် ၊ ဦးသန်းဝင်းဆွေ

ရာထူး ၊ ဒါရိုက်တာ

အပြည်ပြည်ဆိုင်ရာ စီးပွားရေး

လုပ်ငန်းရှင် အဖွဲ့ ဝန်ဆောင်မှု

ကုမ္ပဏီလီမိတက်

နောက်ဆက်တွဲ ( ၁ )

# INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD.

## List of Executives

| စဉ် | အမည် | မှတ်ပုံတင်အမှတ် | ရာထူး | ရှယ်ယာ | နေရပ်လိပ်စာ |
|---|---|---|---|---|---|
| ၁။ | ဦးဝင်းကြိုင် | မြန်မာ ၉/ပတက(နိုင်) ၀၁၃၃၆၅ | မန်နေဂျင်း ဒါရိုက်တာ | ၁၇၀ | အမှတ် (၅၉/၆၁)၊ ဗိုလ်မင်းရောင်လမ်း၊ (၄၀) ရပ်ကွက်၊ ဒဂုံမြို့သစ်(မြောက်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၂။ | ဦးဝင်းနိုင် | မြန်မာ ၉/မနမ(နိုင်) ၀၁၄၉၃၂ | ဒါရိုက်တာ | ၁၆၅ | အမှတ်(၄၂)၊ သီဟလမ်း၊ (၃၈)ရပ်ကွက်၊ ဒဂုံမြို့သစ် (မြောက်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | ဦးသန်းဝင်းဆွေ | မြန်မာ ၉/မနတ(နိုင်) ၀၄၉၃၄၂ | ဒါရိုက်တာ | ၁၆၅ | အမှတ် (၅၉/၆၁)၊ ဗိုလ်မင်းရောင်လမ်း၊ (၄၀) ရပ်ကွက်၊ ဒဂုံမြို့သစ်(မြောက်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

# INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD.

ဆိပ်ခံတားအတွက် ပြည်တွင်းသုံးငွေ ကုန်ကျစရိတ် (ကျပ်သန်းပေါင်း)

| စဉ် | | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း ( Kyat ) | တန်ဖိုး ( Kyat ) |
|---|---|---|---|---|---|---|
| I | | **Civil** | | | | |
| | 1 | RC and Brick Fencing Work ( 1 x 5.79 x 1.25 ) meters | m | 90 | 131,240 | 11,811,600 |
| | 2 | Project Internal Area Sand Filling Work | $m^3$ | 130 | 2,000 | 260,000 |
| | 3 | Internal Concertd road way ( 1 x 1 x 0.25 ) meters | m | 30 | 21,475 | 644,250 |
| | 4 | Culvert ( 10 x 10 x 1 ) meters | m | 10 | 500,000 | 5,000,000 |
| | 5 | Drain Line | m | 50 | 29,508 | 1,475,400 |
| | 6 | Concrerting Sump Wall ( 0.79 x 0.91 x 310.27 ) meters | m | 110.27 | 53,544.14 | 5,904,312 |
| | 10 | Installation of 10' Φ MS Pipe Line | Nos | 3 | 480,000 | 1,440,000 |
| | 11 | Installation of 6' Φ MS Pipe Line | Nos | 1 | 4,372,990 | 4,372,990 |
| | 12 | Installation of 1½' Φ MS Pipe Line | Nos | 5 | 30,000 | 150,000 |
| | 13 | Installation of 2' Φ MS Pipe Line | Nos | 2 | 40,000 | 80,000 |
| | 16 | Foreshore Office 15' x 15' x 20' | No | 3 | 6,296,713 | 18,890,139 |
| | 19 | Fire Fighting Vehicle Office | No | 7 | 10,822,427 | 75,756,989 |
| | 23 | Electric Line Work ( Internal ) | No | 9 | 5,090,000 | 45,810,000 |
| | 24 | Electric Work ( Outsite Work ) | No | 6 | 20,400,720 | 122,404,320 |
| | | | | | **Total** | **294,000,000** |
| | | | | | | |
| | | | | | | |

# INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD.

နိုင်ငံခြားမှ တင်သွင်းမည့် စက်ပစ္စည်းများ

| စဉ် | | | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း ( USD ) | တန်ဖိုး ( USD ) |
|---|---|---|---|---|---|---|---|
| I | | | **Process** | | | | |
| | (A) | | Equipment | | | | |
| | | 1 | Diesel vessel loading pump | set | 2 | 13,102.37 | 26,204.74 |
| | | 2 | Diesel lorry loading pump | set | 4 | 6,551.18 | 26,204.72 |
| | | 3 | Gasoline vessel loading pump | set | 2 | 13,102.37 | 26,204.74 |
| | | 4 | Diesel gasoline lorry loading pump | set | 2 | 6,551.18 | 13,102.36 |
| | | 5 | loading arm | set | 16 | 818.90 | 13,102.40 |
| | | 6 | Oil and gas recovery | set | 1 | 430,740.16 | 430,740.16 |
| | | 7 | Fueling machine | set | 1 | 4,094.49 | 4,094.49 |
| | | 8 | Submersible pump | set | 2 | 491.34 | 982.68 |
| | | 9 | Pipeline air filter DN 250 | set | 5 | 491.34 | 2,456.70 |
| | | 10 | Pipeline air filter DN 200 | set | 6 | 327.56 | 1,965.36 |
| | | | **Total** | | | | **545,058.35** |
| | (B) | | **Material** | | | | |
| | | 1 | Material Hose DN 450 | piece | 6 | 1,637.79 | 9,826.74 |
| | | 2 | Material Hose DN 350 | piece | 10 | 1,310.23 | 13,102.30 |
| | | 3 | Rising stem contract type single gate DN 450 1.6 Mpa | set | 7 | 1,474.01 | 10,318.07 |
| | | 4 | Rising stem contract type single gate DN 350 1.6 Mpa | set | 12 | 982.68 | 11,792.16 |
| | | 5 | Rising stem contract type single gate DN 300 1.6 Mpa | set | 11 | 818.90 | 9,007.90 |
| | | 6 | Rising stem contract type single gate DN 200 Mpa 1.6 deed | set | 17 | 655.12 | 11,137.04 |
| | | 7 | Rising stem contract type single gate DN 150 Mpa 1.6 deed | set | 5 | 491.34 | 2,456.70 |
| | | 8 | Rising stem contract type single gate DN 100 1.6 Mpa | set | 25 | 327.56 | 8,189.00 |
| | | 9 | Rising stem contract type single gate DN 80 1.6 Mpa | set | 7 | 245.67 | 1,719.69 |
| | | 10 | Rising stem contract type single gate DN 50 1.6 Mpa | set | 15 | 163.78 | 2,456.70 |
| | | 11 | Rising stem contract type single gate DN 40 1.6 Mpa | set | 5 | 130.99 | 654.95 |
| | | 12 | Rising stem contract type single gate DN 32 2.5 Mpa | set | 14 | 131.02 | 1,834.28 |
| | | 13 | Rising stem contract type single gate DN 25 2.5 Mpa | set | 63 | 131.02 | 8,254.26 |
| | | 14 | Valve DN 250 2.5 Mpa | set | 1 | 982.68 | 982.68 |
| | | 15 | Ball Valve DN 150 2.5Mpa | set | 1 | 655.12 | 655.12 |
| | | 16 | Ball Valve DN 100 2.5Mpa | set | 17 | 491.34 | 8,352.78 |
| | | 17 | Ball Valve DN 80 2.5Mpa | set | 2 | 327.56 | 655.12 |
| | | 18 | Ball Valve DN 50 2.5 Mpa | set | 2 | 163.78 | 327.56 |
| | | 19 | Ball Valve DN 40 2.5 Mpa | set | 2 | 163.78 | 327.56 |
| | | 20 | Check Valve DN 200 2.5 Mpa | set | 4 | 818.90 | 3,275.60 |
| | | 21 | Check Valve DN 150 2.5 Mpa | set | 6 | 491.34 | 2,948.04 |
| | | 22 | Globe Valve DN 25 2.5 Mpa | set | 8 | 163.78 | 1,310.24 |
| | | 23 | With a flame arrester breather valve DN 300 1.6 Mpa | set | 12 | 1,048.18 | 12,578.16 |

| စဉ် | | | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း ( USD ) | တန်ဖိုး ( USD ) |
|---|---|---|---|---|---|---|---|
| | | 24 | With a flame arrester breather valve DN 250 1.6 Mpa | set | 8 | 818.90 | 6,551.20 |
| | | 25 | With a flame arrester breather valve DN 50 1.6 Mpa | set | 2 | 163.78 | 327.56 |
| | | 26 | Safety valve DN 25 2.5 Mpa | set | 18 | 163.78 | 2,948.04 |
| | | 27 | HDPE Pipe | m | 383.075 | 4.23 | 1,620.41 |
| | | 28 | Seamless steel pipe | t | 133.6994 | 1,064.56 | 142,331.03 |
| | | 29 | Seamless steel pipe | t | 9.8306 | 1,007.24 | 9,901.77 |
| | | 30 | Seamless steel pipe | t | 18.0891 | 966.30 | 17,479.50 |
| | | 31 | Seamless steel pipe | t | 5.1640 | 966.30 | 4,989.97 |
| | | 32 | Seamless steel pipe | t | 0.3980 | 966.30 | 384.59 |
| | | 33 | Epoxy mio paint | kg | 1727.69 | 1.37 | 2,366.94 |
| | | 34 | Fat polyurethane finish | kg | 6489.8 | 2.02 | 13,109.40 |
| | | | **Total** | | | | **324,173.05** |
| II | | | **Water Supply** | | | | |
| | (A) | | **Equipment** | | | | |
| | | 1 | Vertical submerged pump P-1402-A/B | set | 2 | 4,094.49 | 8,188.98 |
| | | 2 | Vertical submerged pump P-1402-A/B | set | 2 | 2,456.69 | 4,913.38 |
| | | 3 | Polyacrylamide, polymer ferric dosing equipment | set | 1 | 19,653.55 | 19,653.55 |
| | | 4 | Air Pressure water tank | set | 1 | 7,370.07 | 7,370.07 |
| | | 5 | Vertical submerged pump P-1401-01 | set | 1 | 2,456.69 | 2,456.69 |
| | | 6 | Vertical submerged pump P-1401-02 | set | 1 | 9,007.88 | 9,007.88 |
| | | | **Total** | | | | **51,590.55** |
| | (B) | | **Material** | | | | |
| | | 1 | Manual valve Z41T-16C-100 | ea | 2 | 85.17 | 170.34 |
| | | 2 | Manual valve Z41T-16C-50 | ea | 2 | 45.85 | 91.70 |
| | | 3 | Manual valve Z41T-16C-15 | ea | 5 | 26.53 | 132.65 |
| | | 4 | Welded steel pipe DN 100-DN 50 | t | 0.37 | 966.30 | 357.53 |
| | | 5 | High-density polyethylene pipe winding reinforced D200 | 10m | 3 | 109.78 | 329.34 |
| | | | **Total** | | | | **1,081.56** |
| | (C) | | **Fire Fighting** | | | | |
| | | 1 | Ground foam plug | ea | 21 | 655.12 | 13,757.52 |
| | | 2 | Manual butterfly ABX 12-16-350 | ea | 5 | 818.90 | 4,094.50 |
| | | 3 | Manual butterfly ABX 12-16-300 | ea | 3 | 655.12 | 1,965.36 |
| | | 4 | Manual butterfly ABX 12-16-250 | ea | 7 | 655.12 | 4,585.84 |
| | | 5 | Manual butterfly ABX 12-16-200 | ea | 7 | 491.34 | 3,439.38 |
| | | 6 | Manual butterfly ABX 12-16-100 | ea | 44 | 163.78 | 7,206.32 |
| | | | **Total** | | | | **35,048.92** |
| | | | **Terminal ( Jetty )** | | | | |
| I | | | **Terminal equipment** | | | | |
| | | 1 | Rubber fender GD 280 L=1500 | set | 10 | 918.84 | 9,188.40 |
| | | 2 | Rubber fender GA-A 600 H L=2000 | set | 20 | 7,809.86 | 156,197.20 |
| | | 3 | Bollard 100 KN | set | 10 | 7,603.96 | 76,039.60 |
| | | 4 | Bollard 750 KN ( Single block eaves ) | set | 2 | 5,388.14 | 10,776.28 |
| | | 5 | Bollard 650 KN ( Single block eaves ) | set | 4 | 4,223.44 | 16,893.76 |

# INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD.

နိုင်ငံခြားမှ တင်သွင်းမည့် စက်ပစ္စည်းများ

| စဉ် | | | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း ( USD ) | တန်ဖိုး ( USD ) |
|---|---|---|---|---|---|---|---|
| | | 6 | Quick releasing hook 750 KN x 3 | set | 2 | 46,463.04 | 92,926.08 |
| | | 7 | Iron ladder | set | 2 | 8,992.88 | 17,985.76 |
| | | | **Total** | | | | **380,007.08** |
| II | | | **Loading and unloading machinery equipment** | | | | |
| | | 1 | Defueling pump 50 CYZ - 50 | set | 1 | 9,479.60 | 9,479.60 |
| | | 2 | Manuel valve Z1A23C DN 250 | set | 4 | 1,420.64 | 5,682.56 |
| | | 3 | Manuel valve Z1A23C DN 200 | set | 6 | 1,083.68 | 6,502.08 |
| | | 4 | Manuel valve Z1A23C DN 150 | set | 2 | 892.32 | 1,784.64 |
| | | 5 | Manuel valve Z1A23C DN 100 | set | 2 | 525.20 | 1,050.40 |
| | | 6 | Manuel valve Z1A23C DN 15-50 | set | 14 | 246.48 | 3,450.72 |
| | | 7 | Check valve H1A23C DN 50 | set | 3 | 391.04 | 1,173.12 |
| | | 8 | Safe valve HTO - 01 - 2J3 | set | 2 | 2,501.20 | 5,002.40 |
| | | | **Total** | | | | **34,125.52** |
| III | | | **Power Supply** | | | | |
| | | 1 | 15m High-pole lamp with 6 x 400W sodium lamp | set | 2 | 19,663.28 | 39,326.56 |
| | | 2 | 6m lamp with 250W sodium lamp | set | 10 | 1,708.72 | 17,087.20 |
| | | 3 | 6m lamp with 150W sodium lamp | set | 8 | 1,270.88 | 10,167.04 |
| | | 4 | 3m obstruction light | set | 2 | 1,405.04 | 2,810.08 |
| | | | **Total** | | | | **69,390.88** |
| IV | | | **Instrument** | | | | |
| | | 1 | Stainless steel pressure gauge | set | 1 | 64.37 | 64.37 |
| | | 2 | Stainless steel and quake-proof pressure gauge | set | 1 | 65.81 | 65.81 |
| | | 3 | Pressure transmitter | set | 2 | 1,076.56 | 2,153.12 |
| | | 4 | SCADA Control system | | | | - |
| | | | Existing signal points A1 | point | 2 | 20,838.56 | 41,677.12 |
| | | | **Total** | | | | **43,960.42** |
| V | | | **Piles** | | | | |
| | | 1 | ***Jetty*** | | | | |
| | | | Ø 1000 PHC pile ( B type ) L=35m , vertical pile | piece | 2 | 10,999.56 | 21,999.12 |
| | | | Ø 1000 PHC pile ( B type ) L=36m , vertical pile | piece | 1 | 21,871.08 | 21,871.08 |
| | | | Ø 1000 PHC pile ( B type ) L=37m , vertical pile | piece | 5 | 17,549.00 | 87,745.00 |
| | | 2 | *Approach bridge* | | | - | - |
| | | | Ø 1000 PHC pile ( B type ) L=35m , vertical pile | piece | 15 | 10,035.24 | 150,528.60 |
| | | | Ø 1000 bored pile ( B type ) L=36m | piece | 10 | 9,546.80 | 95,468.00 |
| | | 3 | *Mooring dolphin* | | | - | - |
| | | | Ø 1000 PHC pile ( B type ) L=45m ,inclined pile | piece | 14 | 10,191.64 | 142,682.96 |
| | | 4 | Ø 600 PHC pile ( B type ) L=35m ,vertical pile | m | 50 | 15.39 | 769.50 |
| | | 5 | Ø 400 PHC pile ( B type ) L=35m ,vertical pile | m | 50 | 21.17 | 1,058.50 |
| | | 6 | Others | | | | 3,450.69 |
| | | | **Total** | | | | **525,573.45** |
| | | | **Grand Total** | | | | **2,010,009.78** |

နောက်ဆက်တွဲ (၃)

## INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD

**Buildings**

(သန်းပေါင်း)

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း (ကျပ်) | တန်ဖိုး (ကျပ်) |
|---|---|---|---|---|---|
| ၁ | ရုံးအဆောက်အဦး (၂၂၂. ၉၆ စတုရန်းမီတာ) | လုံး | ၁ | | |
| ၂ | ဆီဂါလံ (၇၆၁၉) တန်ဆံ့ | လုံး | ၂ | | |
| ၃ | ဆီဂါလံ (၃၈၀၉. ၅) တန်ဆံ့ | လုံး | ၂ | | |
| ၄ | ဆီဂါလံ (၃၈၀. ၉၆) တန်ဆံ့ | လုံး | ၂ | | |
| ၅ | စက်သုံးဆီ ဖြန့်ဖြူးရေး အဆောအအုံများ (၁၈၅. ၈ စတုရန်းမီတာ) | လုံး | | | |
| ၆ | ပြုပြင်ထိန်းသိမ်းရေး အလုပ်ရုံ (၃၇. ၁၆) စတုရန်းမီတာ | လုံး | | | |
| ၇ | ပစ္စည်းသိုလှောင်ရုံ (၃၇. ၁၆) စတုရန်းမီတာ | လုံး | | | |
| ၈ | လျှပ်စစ်ဓာတ်အားခွဲရုံ (၇၄. ၃၁) စတုရန်းမီတာ | လုံး | | | |
| ၉ | ရေဖြန့်ဖြူးရေး အဆောက်အအုံများ (၁၄၆. ၆၄) စတုရန်းမီတာ | လုံး | | | |
| ၁၀ | လုံခြုံရေး အဆောက်အအုံများ (၄၁. ၈) စတုရန်းမီတာ | လုံး | | | |
| ၁၁ | အခြားအသုံးအဆောင်နှင့် အဆောက်အအုံများ (၄၆၄. ၅၁)စတုရန်းမီတာ | လုံး | | | |
| | စုစုပေါင်း | | | | ၁၄၉၈ |

# စီးပွါးရေးဆိုင်ရာ တွက်ချက်မှု
# နောက်ဆက်တွဲ စာရင်းဇယားများ

နောက်ဆက်တွဲ (၅)
**Sheet (1)**

# INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD.

## Detail Calculation of Port and Storage Charges Per Year

**Year (1)**

1. **Berthing Charges (Sea going)**
   290 US$/ berth x 3 berths x 12 months/ year
   =10,440 US$
   =10,440 x 855 kyat/ US$
   =8,926,200 kyats

2. **Stevedoring Charges (Sea going)**
   2 US$/ tons x 3,000 tons/ ship x 4 ships/ month x 12 months/ year
   =288,000 US$
   =288,000 x 855 kyat/US$
   =246,240,000 kyats

3. **Wharfage Charges (Sea going)**
   =20 kyats/ ton x 3,000 tons/ ship x 4 ships/ month x 12 months/ year
   =2,880,000 kyats

4. **Berthing Charges (Inland)**
   125 kyats x {(3,000 x 4 x 12) ÷ 2 tons ÷ 1500}
   =125 x 48 berths x 2 days
   =12,000 kyats

5. **Stevedoring Charges (Inland)**
   35 kyats x 100,000
   =3,500,000 kyats

6. **Wharfage Charges (Inland)**
   20 kyats x 100,000 tons/ year
   =2,000,000 kyats

7. **Dirty Cargo Charges (Sea going)**
   15 US$/shift x 2 shifts/ day x 4 days/ month x 12/ year
   =15 x 2x 4 x 12
   =1,440 US$
   =1,440 x 855 kyats/ US$
   =1,231,200 kyats

8. **Dirty Cargo Charges (Inland)**
   88 kyats/ shift x 2 shifts/ ships x 4 ships/ months x 12 months/ year
   =88 x 2 x 4 x 12
   =8,448 kyats

9. **Mooring Charges (Sea going)**
   180 US$/ gang x 2 gangs/ ship x 4 ships/ months/ year
   =180 x 2 x 4 x 12
   =17,280 US$
   =21,600 x 855 kyats/ US$
   =14,774,400 kyats

# INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD.

## Detail Calculation of Port and Storage Charges Per Year

**10. Mooring Charges (Inland)**
1,060 kyats/ gang x 2 gangs/ ships x 4 ships/ month x 12 months/ year
=1,060 x 2 x 4 x 12
=101,760 kyats

**11. Other Charges**
0.5 US$/ ton x 3,000 tons/ship x 4 ships/month x 12 months/ year
=0.5 x 3,000 x 4 x 12
=72,000 US$
=72,000 x 855 kyats/ US$
=61,560,000 kyats

**12. Storage Charges**
30 kyats/ gal x 263 gals/ ton x 3,000 tons/ ship x 4 ships/month x 12 months/year
=30x 263 x 3,000 x 4 x 12
=1,136,160,000 kyats

**13. Delivery Charges**
50 kyats/ gal x 263 gals/ton x 3,000 tons/ship x 4 ships/ month x 12 months/ year
=50 x 263 x 3,000 x 4 x 12
=1,893,600,000 kyats

<u>**Year (2)**</u>

1. **Berthing Charges (Sea going)**
290 US$/ berth x 3.15 berths x 12 months/ year
=10,962 US$
=10,962 x 855 kyat/ US$
=9,372,510 kyats

2. **Stevedoring Charges (Sea going)**
2 US$/ tons x 3,150 tons/ ship x 4 ships/ month x 12 months/ year
=302,400 US$
=302,400 x 855 kyat/US$
=258,552,000 kyats

3. **Wharfage Charges (Sea going)**
=20 kyats/ ton x 3,150 tons/ ship x 4 ships/ month x 12 months/ year
=3,024,000 kyats

4. **Berthing Charges (Inland)**
125 kyats x {(3,150 x 4 x 12) ÷ 2 tons ÷ 1500}
=125 x 50.4 berths x 2 days
=12,600 kyats

5. **Stevedoring Charges (Inland)**
35 kyats x 105,000
=3,675,000 kyats

နောက်ဆက်တွဲ (၅)
**Sheet (3)**

# INTERNATIONAL GROUP OF ENTREPRENEUR SERVICES CO., LTD.

## Detail Calculation of Port and Storage Charges Per Year

**6. Wharfage Charges (Inland)**
20 kyats x 105,000 tons/ year
=2,100,000 kyats

**7. Dirty Cargo Charges (Sea going)**
15 US$/shift x 2.1 shifts/ day x 4 days/ month x 12/ year
=15 x 2.1 x 4 x 12
=1,512 US$
=1,512 x 855 kyats/ US$
=1,292,760 kyats

**8. Dirty Cargo Charges (Inland)**
88 kyats/ shift x 2.1 shifts/ ships x 4 ships/ months x 12 months/ year
=88 x 2.1 x 4 x 12
=8,870 kyats

**9. Mooring Charges (Sea going)**
180 US$/ gang x 2.1 gangs/ ship x 4 ships/ months/ year
=180 x 2.1 x 4 x 12
=18,144 US$
=15,513 x 855 kyats/ US$
=15,513,120 kyats

**10. Mooring Charges (Inland)**
1,060 kyats/ gang x 2.1 gangs/ ships x 4 ships/ month x 12 months/ year
=1,060 x 2.1 x 4 x 12
=106,848 kyats

**11. Other Charges**
0.5 US$/ ton x 3,150 tons/ship x 4 ships/month x 12 months/ year
=0.5 x 3,150 x 4 x 12
=75,600 US$
=75,300 x 855 kyats/ US$
=64,638,000 kyats

**12. Storage Charges**
30 kyats/ gal x 263 gals/ ton x 3,150 tons/ ship x 4 ships/month x 12 months/year
=30x 263 x 3,150 x 4 x 12
=1,192,968,000 kyats

**13. Delivery Charges**
50 kyats/ gal x 263 gals/ton x 3,150 tons/ship x 4 ships/ month x 12 months/ year
=50 x 263 x 3,150 x 4 x 12
=1,988,280,000 kyats

